အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Seagram Myanmar Company Limited မှ High Class ဝီစကီအပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Seagram Myanmar Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးဇော်ဝင်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Seagram MM Holding Pte. Ltd. (စင်္ကာပူ) ၈၀%၊<br>- ဦးဇော်ဝင်း (မြန်မာ) ၁၀%၊<br>- ဦးထွန်းဝင်း (မြန်မာ) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - High Class ဝီစကီအပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၁၅ နှစ် |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၃၈၊ ၁၃၉၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ သာခုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးဇော်ဝင်း |
| | မြေငှားသက်တမ်း | - ကနဦး နှစ် ၅၀ |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၁၈.၉၈၃ ဧက |
| | မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၁၈.၉၈<br>(တစ်နှစ် တစ်ဧကလျှင် US$ ၁.၀၀ နှုန်း) |
| ၄။ | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၁၈.၃၈၀ သန်း |

(US$ သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| Licenses and Assets | - | ၃.၆၈၀ | ၃.၆၈၀ |
| စက်ပစ္စည်း | ၃.၀၆၅ | - | ၃.၀၆၅ |
| ကနဦးကုန်ကြမ်း | ၂.၇၆၅ | - | ၂.၇၆၅ |
| ငွေသား | ၈.၈၇၀ | - | ၈.၈၇၀ |
| **စုစုပေါင်း** | **၁၄.၇၀၀** | **၃.၆၈၀** | **၁၈.၃၈၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းခန့်ထားမှု | - ၈၀၆ ဦး |
| | ပြည်တွင်း | - ၈၀၂ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၁၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၄ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၂၅,၀၀၀ ဖြစ်ပါသည်။) |

<table>
<tr><td>၇။</td><td>ရောင်းချမည့်စနစ် ထုတ်လုပ်မှု</td><td>- ၁၀၀% ပြည်တွင်းရောင်း
<table>
<tr><th>စဉ်</th><th>အမျိုးအမည်/ စတင်ထုတ်လုပ်မည့်နှစ်</th><th>အရေအတွက် (လီတာ)</th><th>ရောင်းဈေးနှုန်း (ကျပ်/လီတာ)</th></tr>
<tr><td>(က)</td><td>ဝီစကီ (ပထမနှစ်)</td><td>၆,၃၀၀,၀၀၀</td><td>၂,၇၅၄</td></tr>
<tr><td>(ခ)</td><td>ရမ် (ပဥ္စမနှစ်)</td><td>၂,၇၅၄,၄၆၂</td><td>၄,၄၅၃</td></tr>
<tr><td>(ဂ)</td><td>Vodka (ဆဋ္ဌမနှစ်)</td><td>၁,၆၀၉,၇၀၉</td><td>၄,၉၅၀</td></tr>
<tr><td>(ဃ)</td><td>Gin(နဝမနှစ်)</td><td>၁,၁၅၈,၄၈၆</td><td>၆,၃၄၁</td></tr>
<tr><td>(င)</td><td>အခြား (နဝမနှစ်)</td><td>၁,၁၅၈,၄၈၆</td><td>၆,၃၄၁</td></tr>
</table></td></tr>
<tr><td>၈။</td><td>အခြားတင်ပြချက်</td><td>- လုပ်ငန်းဆောင်ရွက်ရန် ဦးဇော်ဝင်းအမည်ဖြင့် ရရှိထားသော D1A လိုင်စင် တင်ပြထားပါသည်။<br>- Seagram MM Holding Pte. Ltd.၊ ဦးဇော်ဝင်းနှင့် ဦးထွန်းဝင်းတို့ချုပ်ဆိုမည့် ဖက်စပ်သဘောတူ စာချုပ် (မူကြမ်း) ကိုတင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဇော်ဝင်းနှင့် Seagram Myanmar Company Limited တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဇော်ဝင်း၏ မြေပိုင်ဆိုင်မှု [illegible] များ တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Asia Beverages Co., Ltd.၊ ဦးဇော်ဝင်းနှင့် ဦးထွန်းဝင်း အမည်ဖြင့် မြန်မာနိုင်ငံရှိ AYA Bank တွင် ၈-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၄.၁၈၉ သန်း ရှိကြောင်း အထောက်အထားနှင့် Seagram MM Holding Pte. Ltd. ၏ မိခင်ကုမ္ပဏီဖြစ်သော YOMA Strategic Holding Ltd. ၏ ၂၀၁၈ ခုနှစ် ဘဏ္ဍာရေးရှင်းတမ်းများ တင်ပြထားပါသည်။<br>- Seagram Myanmar Company Limited နှင့် Seagram MM Holding Pte. Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်များတင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- စက်ရုံတည်နေရာပြမြေပုံ၊ စက်ရုံ Layout Plan၊ လုပ်ငန်းလည်ပတ်ပုံ အဆင့်ဆင့်တို့ကို တင်ပြထားပါသည်။<br>- ဝန်ထမ်း သက်သာချောင်ချိရေး အစီအမံ၊ မီးဘေးကာကွယ်ရေး ဆောင်ရွက်ချက်၊ CSR အစီအစဉ် တို့ကို တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - Seagram Myanmar Company Limited ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်သော ဦးဇော်ဝင်းနှင့် ဦးထွန်းဝင်းတို့သည် လက်ရှိ ဝီစကီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လျက်ရှိသော Asia Beverages Co., Ltd. ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်ပါသည်။<br>Asia Beverages Co., Ltd. ၏ စက်ပစ္စည်းများ၊ စက်ရုံအဆောက်အဦများနှင့် လုပ်ငန်းများကို တန်ဖိုးသင့်၍ မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံသူမှ ထည့်ဝင်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံသူမှ ငွေသား၊ စက်ပစ္စည်း၊ ကုန်ကြမ်းများထည့်ဝင်ပြီး Seagram High Class အမှတ်တံဆိပ်ဖြင့် ဝီစကီ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။<br>- လုပ်ငန်းသည် ပြည်ပမှ US$ ၃.၀၇၀ သန်းတန်ဖိုးရှိသော စက်ပစ္စည်းများနှင့် ကုန်ကြမ်းများအနေဖြင့် 3 Year Old Bulk Whisky, 3 Year Old Bulk Malt Whisky, 3 Years Old Bulk Scotch Whisky, Bulk Blended Malt Scotch Whisky နှင့် စသည်တို့ပါဝင်သည့် US$ ၂.၇၆၀သန်း တန်ဖိုးရှိသော ကုန်ကြမ်းပစ္စည်းများကို တင်သွင်းမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- အဆိုပါလုပ်ငန်း ဆောင်ရွက်နိုင်ရေး တင်ပြလာမှုအပေါ် ၁၁-၁-၂၀၁၉ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ ၁/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးမှ မူအားဖြင့် သဘောတူညီထားပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများတွင်ပါဝင်ပြီး နိုင်ငံသား သို့မဟုတ် နိုင်ငံသားပိုင် လုပ်ငန်းတစ်ခုခုနှင့် ပူးပေါင်း၍ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် လုပ်ငန်း ISIC 1101 တွင် ပါဝင်သော လုပ်ငန်းဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၉-၈-၂၀၁၄ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၅၁/၂၀၁၄အရ အကောက်အခွန် ကင်းလွတ်ခွင့်၊သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသော လုပ်ငန်းအုပ်စုတွင် ပါဝင်သဖြင့် ကင်းလွတ်ခွင့် မခံစားနိုင်ပါ။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ အ-၀၄၁/ ၂၀၁၉( ၀၈၇ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် မတ်လ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Seagram Myanmar Company Limited မှ High Class ဝီစကီအပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Seagram Myanmar Company Limited မှ မြေကွက်အမှတ်- ၁၃၈၊ ၁၃၉၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ မြေတိုင်းရပ်ကွက်အမှတ် -၅၁၊ သာခုကန် စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁၈.၉၈၃ ဧက တွင် High Class ဝီစကီအပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဇော်ဝင်းနှင့် Seagram Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦငှားရမ်းစာချုပ် (မူကြမ်း) နှင့် မြေပိုင်ရှင် ဦးဇော်ဝင်း၏ မြေပိုင်ဆိုင်မှုအထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းမှာ ကနဦး ၅၀ နှစ် ငှားရမ်းမည် ဖြစ်ပါသည်။ မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၁.၀၀ နှုန်း ဖြင့် စုစုပေါင်းမြေဧရိယာ ၁၈.၉၈၃ ဧကအတွက် အမေရိကန်ဒေါ်လာ ၁၈.၉၈ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၅ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆ လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၈.၃၈၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| Licenses and Assets | - | ၃.၆၈၀ | ၃.၆၈၀ |
| စက်ပစ္စည်း | ၃.၀၆၅ | - | ၃.၀၆၅ |
| ကနဦးကုန်ကြမ်း | ၂.၇၆၅ | - | ၂.၇၆၅ |
| ငွေသား | ၈.၈၇၀ | - | ၈.၈၇၀ |
| **စုစုပေါင်း** | ၁၄.၇၀၀ | ၃.၆၈၀ | ၁၈.၃၈၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၈၀၂ ဦး နှင့် ပြည်ပဝန်ထမ်း ၄ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၁၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ အမေရိကန် ဒေါ်လာ ၂၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ High Class အမှတ်တံဆိပ် ဝီစကီ အပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာအောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (လီတာ) | ရောင်းဈေးနှုန်း (ကျပ်/လီတာ) |
|---|---|---|---|
| (က) | ဝီစကီ (ပထမနှစ်) | ၆,၃၀၀,၀၀၀ | ၂,၇၅၄ |
| (ခ) | ရမ် (ပဥ္စမနှစ်) | ၂,၇၅၄,၄၆၂ | ၄,၄၅၃ |
| (ဂ) | Vodka (ဆဋ္ဌမနှစ်) | ၁,၆၀၉,၇၀၉ | ၄,၉၅၀ |
| (ဃ) | Gin(နဝမနှစ်) | ၁,၁၅၈,၄၈၆ | ၆,၃၄၁ |
| (င) | အခြား (နဝမနှစ်) | ၁,၁၅၈,၄၈၆ | ၆,၃၄၁ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန**မှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

၉။ ငွေကြေးအထောက်အထားအဖြစ် Asia Beverages Co., Ltd.၊ ဦးဇော်ဝင်းနှင့် ဦးထွန်းဝင်း အမည်ဖြင့် မြန်မာနိုင်ငံရှိ AYA Bank တွင် ၈-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၄.၁၈၉ သန်း ရှိကြောင်းနှင့် စင်္ကာပူနိုင်ငံရှိ Seagram MM Holding Pte. Ltd. ၏ မိခင် ကုမ္ပဏီဖြစ်သော YOMA Strategic Holding Ltd. ၏ ၂၀၁၈ ခုနှစ် ဘဏ္ဍာရေး ရှင်းတမ်းများ တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Seagram Myanmar Company Limited မှ High Class ဝီစကီအပါအဝင် အရက်အမျိုးမျိုး ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ